

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၄၈................../၂၀၁၀ ။ ၂၀၁၀ ခုနှစ်၊ မေ လ ၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ......ဦးကိုကိုကြီး (ခ) ဦးစိုးနိုင်......

(ခ) အဘ အမည် ......ဦးစိန်မြင့်......

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်......၁၂ /ကတတ(နိုင်) ၀၁၂၂၄၃......

(ဃ) နေရပ်လိပ်စာ ......အမှတ်–၁၂၆(အေ)၊ ကမ္ဘာအေးဘုရားလမ်း၊ ဗဟန်းမြို့နယ်၊ ......ရန်ကုန်မြို့......

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ......စိမ်းလဲ့မြေ စားသောက်ကုန် လုပ်ငန်း ......လီမိတက်(Green Land Food Industries Ltd.)......

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ......ကုန်ပစ္စည်းထည့်သိုရန် အိတ်ကြီးများ ......(PP Bags) ထုတ်လုပ်ခြင်းလုပ်ငန်း......

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ......မြေကွက်အမှတ် (၄၇၊၄၈၊၄၉)၊ ယောအတွင်းဝန်ဦးဖိုးလှိုင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ်(၁၁၃)၊ အရှေ့ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ ရန်ကုန်မြို့။......

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ......၁၀၀၀(သန်း) (အမေရိကန်ဒေါ်လာ ၂.၃၀ သန်းအပါအဝင် စုစုပေါင်းကျပ်သန်းတစ်ထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၇ /၂၀၁၀ (မနသ)
နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ ကဆုန်လပြည့်ကျော် ၈ ရက်
(၂၀၁၀ ခုနှစ်၊ မေလ ၅ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.) မှ မြေကွက် အမှတ် (၄၇၊ ၄၈၊ ၄၉)၊ ယောအတွင်းဝန် ဦးဖိုးလှိုင်လမ်း၊ မြေတိုင်းရပ်ကွက်အမှတ် ၁၁၃၊ အရှေ့ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ် အရှေ့ပိုင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ ပက်(ခ်)လင့်(ခ်)ထရေးဒင်းလီမိတက်အမည်ဖြင့် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနမှ အသုံးပြုခွင့် ရရှိထားသော မြေ (၆.၇၅) ဧက (၂၉၄၀၀၀ စတုရန်းပေ) နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ ကို ငှားရမ်း၍ ကုန်ပစ္စည်းထည့်သိုရန် အိတ်ကြီးများ (PP Bags) ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၂-၁၂-၂၀၀၉) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄၅/၂၀၀၉) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၄-၃-၂၀၁၀)နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၁၁/၂၀၁၀) အစည်းအဝေးသို့ ဆက်လက်တင်ပြခဲ့ ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ (၂၉-၄-၂၀၁၀) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့၏ (၁၆/၂၀၁၀)အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.) အား ကုန်ပစ္စည်း ထည့်သိုရန် အိတ်ကြီးများ (PP Bags) ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၇၄၈/၂၀၁၀ ကို ထုတ်ပေးလိုက်သည်။

၂။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု တွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်

အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏ ကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး ၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်း သည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် ၁၃(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည်ဝယ်ယူသည့်စနစ် (Buy - back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များ ကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိ ဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် ဤ အဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြု လုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မြေနှင့် အဆောက်အဦ အငှားချထားသူ ဒေါ်မိုးမိုး(ပက်(ခ်)လင့်(ခ်)ထရေးဒင်းလီမိတက်) နှင့် အငှားချထားခြင်းခံရသူ ဦးကိုကိုကြီး (ခ) ဦးစိုးနိုင် [စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)] တို့ချုပ်ဆိုမည့်မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင် ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီး ဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများသက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စိစဉ် ဆောင်ရွက်ရမည်။

၉။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၀။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၁။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၃။ စိမ်းလဲ့မြေ စားသောက်ကုန်လုပ်ငန်းလီမိတက် (Green Land Food Industries Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရ မည်။

၁၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင်လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၃၉/၂၀၁၀(၆၄၂၀ )။
ရက် စွဲ ၊ ၂၀၁၀ ခုနှစ် ၊ မေ လ ၅ ရက် ။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၅။ အမှတ်(၁)စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၈။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၉။ အလုပ်သမား ဝန်ကြီးဌာန။

၁၀။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၁။ အမှတ်(၂) လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။

၁၂။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၃။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။

၂၁။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအား ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၅။ ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှု ဦးစီးဌာန။

၂၆။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၇။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၉။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၃၀။ အုပ်ချုပ်မှု ဒါရိုက်တာ၊ စိမ်းလဲ့မြေ စားသောက်ကုန် လုပ်ငန်း လီမိတက် (Green Land Food Industries Ltd.)